(ပ) အောက်ပါမီးသတ်ပစ္စည်းများကို မြင်သာသည့်နေရာ ၊ ယူရန်လွယ်ကူသည့် နေရာတွင်ထားရှိရန်-

(၁) မီးသတ်ဗူး ( ) လုံး

(၂) သဲပုံး ( ) ပုံး

(၃) မီးသတ်ရေဆွဲပုံး ( ) ပုံး

(၄) မီးကပ် ( ) ခု

(၅) မီးချိတ် ( ) ခု

(၆) ညအချိန်အသုံးပြုရန် လက်နှိပ်ဓါတ်မီး ( ) ခု

(၇) ပေါက်ဆိန် ( ) ခု

၅။ မီးဘေးအန္တရာယ်သည် ရုံးချိန်အတွင်းဖြစ်ပေါ်ပါက အထွေထွေမန်နေဂျာ၊ လုံခြုံရေးမှူး ၊ စီမံရေးရုံးသို့ သတင်းပို့ရန် ၊ စီမံမန်နေဂျာ ၊ လုံခြုံရေးမှူး ၊ စီမံရေးရုံးမှလည်း နီးစပ်ရာ မီးသတ်စခန်းများ ၊ ပြည်သူ့ရဲတပ်ဖွဲ့ စခန်းများ နှင့် အုပ်ချုပ်မှုဒါရိုက်တာ ( Diamond Star Company Limited ) အား အလျင်အမြန် အကြောင်းကြားရန် ၊ Diamond Star Company Limited ကုမ္ပဏီတွင် ဖွဲ့စည်းထားသော မီးငြိမ်းသတ်ရေး အဖွဲ့များကလည်း မိမိအဖွဲ့အလိုက် စနစ်တကျဆောင်ရွက်ကြရန် ။

၆။ မီးဘေးအန္တရာယ်သည် ရုံးပြင်ပတွင်ဖြစ်ပေါ်ပါက မီးလုန့်သံချောင်း ခေါက်ပြီး အထွေထွေမန်နေဂျာ၊ စီမံမန်နေဂျာ၊ တာဝန်မှူး ၊ လုံခြုံရေးမှူး တို့ကို သတင်းပို့အကြောင်းကြားရန် ၊ စီမံမန်နေဂျာ ၊ လုံခြုံရေးမှူး၊ အဆောင်နေဝန်ထမ်းများက နီးစပ်ရာမီးသတ်စခန်းများ နှင့် အုပ်ချုပ်မှုဒါရိုက်တာအားအကြောင်းကြားရန် လောလောဆယ်ကျရောက်နေသည့် မီးဘေးအန္တရာယ် အား တာဝန်ကျလုံခြုံရေးများ ၊ အဆောင်နေဝန်ထမ်းများက ဟန့်တားကာကွယ်ရန်။

**<u>အဖွဲ့များဖွဲ့စည်းခြင်း</u>**

၇။ မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးအတွက် အုပ်ချုပ်မှုဒါရိုက်တာ ၊ အထွေထွေမန်နေဂျာတို့၏ လမ်းညွှန်မှုဖြင့် စီမံမန်နေဂျာ မှ ကြီးကြပ်မီးငြိမ်းသတ်ရေးအဖွဲ့ ၊ လုံခြုံရေးအဖွဲ့ ၊ ကယ်ဆယ်ရေး နှင့် ပစ္စည်းသယ်ယူရွှေ့ ပြောင်းရေးအဖွဲ့ တို့ကိုပူးတွဲအမည်စာရင်းအတိုင်းဖွဲ့စည်းထားရှိရန်။

၈။ မီးငြိမ်းသတ်ရေးအဖွဲ့၏တာဝန်ဝတ္တရားများ

(က) မီးသတ်ဗူး၊ မီးကပ် ၊ မီးချိတ်၊ သဲပုံး ၊ လျှပ်စစ်မီးခလုတ် ၊ ပင်မမီးခလုတ် ရှိသည့်နေရာများကိုသိရှိအောင် ကြိုတင် လေ့လာထားရမည်။

(ခ) မီးသတ်ဗူး၊ မီးကပ် ၊ မီးချိတ်၊ သဲပုံး တို့ကို လိုအပ်လျှင်အသုံးပြုတတ်အောင် လေ့ကျင့်ထားရမည်။

## Diamond Star Company Limited

## လုပ်ငန်းခွင်သာယာရေး နှင့် သက်သာချောင်ချိရေးစီမံချက်

သတင်း ။ Diamond Star company Limited သည် စိုက်ပျိုးရေးအခြေခံလယ်ယာထွက်ကုန်သီးနှံများ ပြန်လည်သန့်စင်ခြင်း၊ ပြုပြင်ထုတ်ပိုးခြင်း၊ သိုလှောင်ခြင်း၊ ဝန်ဆောင်မှုပေးခြင်း၊ အထွေထွေကုန်ပစ္စည်းများအား ရောင်းဝယ်ဖောက်ကားခြင်း စသည့်လုပ်ငန်းများ [ Logistic HUB (Refrigerated Cold Chain Warehouse) and General Merchandised Store ] လုပ်ကိုင်လျှက်ရှိပါသည်။

ရည်ရွယ်ချက်။ ဝန်ထမ်းများ လုပ်ငန်းခွင်သာယာရေး နှင့် သက်သာချောင်ချိရေးဆောင်ရွက်နိုင်ရန်။

လုပ်ဆောင်ချက်။ အောက်ပါအတိုင်းအပိုင်း( ၂)ပိုင်းဖြင့်ဆောင်ရွက်သွားပါမည်။

( ၁) လုပ်ငန်းခွင်သာယာရေး

(၂) ဝန်ထမ်းများသက်သာချောင်ချိရေး

**၁။ လုပ်ငန်းခွင်သာယာရေး ။ အဆိုပြုလုပ်ငန်း၏လုပ်ငန်းခွင်သာယာရေး ရှိရန်အတွက် အောက်ပါအတိုင်း ဆောင်ရွက် သွားပါမည်။**

(က) လုပ်ငန်းခွင် ပတ်ဝန်းကျင်သန့်ရှင်းရေး နှင့် လေကောင်းလေသန့်များ ရရှိရေး အတွက် ရေမြောင်းများ စနစ်တကျတူးဖော်၍ ရေစီးရေလာကောင်းစေရန် ဆောင်ရွက်သွားပါမည်။

(ခ) လုပ်ငန်းခွင်၏ ပတ်ဝန်ကျင် သန့်ရှင်းရေးအားဝန်ထမ်းအားလုံးဝိုင်းဝန်းစုပေါင်းဆောင်ရွက်ခြင်း၊ဝန်ထမ်းတစ်ဦးချင်းစီဖြင့်လည်း စည်းကမ်းတကျ အမှိုက်ပုံးများသို့ စွန့်ပစ်ပစ္စည်းထည့်ရန်ဆောင်ရွက်သွားပါမည်။

(ဂ) ဝန်ထမ်းများ- ထမင်းစားရန် နှင့် နားနေနိုင်ရန်ခုံများစားပွဲရှည်များ ၊ အလုံအလောက်စီမံထားရှိပါမည်။

(ဃ) လုပ်ငန်းခွင်အတွင်း သန့်ရှင်းမှုရှိစေရေးအတွက် စနစ်တကျအမှိုက်ပုံးများထားရှိပြီး သန့်ရှင်းရေးဝန်ထမ်း များ မှ အချိန်ပြည့်တာဝန်ထမ်းဆောင်စေပါမည်။

(င) လုပ်ငန်းခွင် လေဝင် /လေထွက် ကောင်းမွန်ရေးအတွက် အစီအစဉ်များထားရှိဆောင်ရွက်သွားပါမည်။

(စ) ဝန်ထမ်းများ ကျန်းမာရေးဆိုင်ရာ ရေအိမ်သာများ ကျား / မ ခွဲ၍ အလုံအလောက်သတ်မှတ်ထား သည့် အတိုင်းထားပေးသွာရန် နှင့် သန့်ရှင်းမှုရှိ စေရေး ပိုးသတ်ဆေး များစနစ်တကျ ပက်ဖျန်း၍ သန့်ရှင်းရေးကို အမြဲဂရုပြု ဆောင်ရွက်သွားပါမည်။

**၂။ ဝန်ထမ်းများသက်သာချောင်ချိရေး ။ အောက်ပါအတိုင်းဆောင်ရွက်သွားပါမည်။**

(က) ဝန်ထမ်းများ အသွား/ အပြန် ဖယ်ရီ ယာဉ် ကြို/ပို့ အခမဲ့စနစ်ဖြင့်ဆောင်ရွက်သွားပါမည်

(ခ) ဝန်ထမ်းများအရေးပေါ်ကျန်းမာရေးအတွက် တတ်ကျွမ်းသောသူနာပြုဆရာ မတစ်ဦးခန့်ထားပြီး လိုအပ်သောဆေးဝါးအပြည့်အစုံ နှင့်ဆေးသေတ္တာထားရှိသွားပါမည်။

(ဂ)	လုပ်ငန်းခွင်မတော်တဆ ထိခိုက်ဒဏ်ရာရရှိသော ဂန်ထမ်းများကိုလည်းဒဏ်ရာ ကောင်းမွန်သည် အထိ ဆေးရုံ / ဆေးခန်းများသို့သွားရောက်ကုသပေးစေပါမည်။

(ဃ)	ဂန်ထမ်းများထမင်းစားချိန် နှင့်မုန့်စားချိန်တို့တွင် လိုအပ်သလို ဂယ်ယူစားသုံးနိုင်ရန်သန့်ရှင်းလတ်ဆတ်သောထမင်း၊ဟင်းမျိုးစုံ နှင့် မုန့်မျိုးစုံတို့အား ကုမ္ပဏီရှေ့တွင်ရောင်းချခွင့်ပြုထားပါမည်။

(င)	အချိန်ပိုဆင်းရသောနေ့များတွင် အချိန်ပိုကြေးအပြင်မုန့်ဖိုးဂန်ထမ်းတစ်ဦးလျှင်၅ဂဂ/- စီထောက်ပံ့ပေးသွားပါမည်။

(စ)	ဂန်ထမ်းများ၏ လစာများကို လုပ်သက်/စည်းကမ်း အပေါ် မူတည်ကာ တိုးမြှင့်ခံစားစေရန် ဆောင်ရွက်သွားပါမည်။

(ဆ)	ဂန်ထမ်းများ သောက်သုံးရေကိုလည်း ရေသန့်ဘူးများဖြင့် သောက်သုံးနိုင်ရေး စီစဉ်ဆောင်ရွက်သွားပါ မည်။

**အုပ်ချုပ်မှု**

၃။	လိုအပ်ချက်အပေါ် မူတည်၍ ဆင့်ကဲဆင့်ကဲ အုပ်ချုပ်နိုင်ရန် MD ဦးဆောင်သော အုပ်ချုပ်ရေး ဦးစီးအဖွဲ့ နှင့် ထုတ်လုပ်ရေးဌာန အနေဖြင့် ပညာရှင်၊ ဂန်ထမ်း အုပ်ချုပ်သူမန်နေဂျာများဖြင့် Super , Leader စသည်ဖြင့် စနစ်တကျ ဖွဲ့စည်း၍ ဆောင်ရွက်သွားပါမည်။

**ဆက်သွယ်မှု**

၄။	ဂန်ထမ်းများအနေဖြင့် Leader , Super စသည်ဖြင့် ဆင့်ကဲဆင့်ကဲ သတင်းပို့စနစ်ဖြင့်ဆောင်ရွက် စေပြီး မန်နေဂျာများ မှတဆင့် လိုအပ်သောအခြေအနေပေါ် မူတည်ကာ အထက်ဦးစီးအဖွဲ့သို့ တင်ပြဆောင် ရွက်သွား ပါမည်။ အရေးပေါ် ကိစ္စရှိ၍ ခွင့်တိုင်ကြားမှု နှင့် အခြားကိစ္စအတွက် ရုံးဖုန်း နှင့် A/GM နှင့် ဆက်သွယ်ဆောင်ရွက်နိုင် အောင် ဆောင်ရွက်ထားရှိပါမည်။ ဌာနဆိုင်ရာများ နှင့်ဆက်သွယ်ဆောင်ရွက်နိုင်ရန် သက်ဆိုင်ရာများ၏ ဖုန်းနံပါတ်များ စနစ်တကျ ပြုစု၍ လုံခြုံရေး ရုံး ၊ စီမံဌာနတို့၌ကပ်ထားပေးပါမည်။

လျှို့ဝှက်

၁၃/၂၀၁၅
၁၁-၁၂-၁၅
၃၆၂၈
၁၄-၁၂-၂၀၁၅

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**ပြည်ထောင်စုရှေ့နေချုပ်ရုံး**

**နေပြည်တော်**

စာအမှတ်၊ ၂(၅) ၃ - ၂၃၃/နပတ( ၁၂၆၁ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၁၀ ရက်

အကြောင်းအရာ။ **မန္တလေးတိုင်းဒေသကြီး၊ အမရပူရမြို့နယ်၊ နတ်ရေကန်ကျေးရွာရှိ ဌာနပိုင်မြေ (၇.၇၀)ကေအား Diamond Star Co., Ltd သို့ငှားရမ်းခြင်းအတွက် ပြင်ဆင်သည့် ဒုတိယအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ်(မူကြမ်း) အပေါ် သဘောထားမှတ်ချက်ပေးရန်ကိစ္စ**

ရည် ညွှန်း ချက် ။ လယ်ယာစိုက်ပျိုးရေး နှင့် ဆည်မြောင်းဝန်ကြီးဌာန ၊ ဝန်ကြီးရုံး ၏ ၁၇-၁၁-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၄ / ၉၀(က)(၃)( ၂၅၁၁ / ၂၀၁၅)

၁။ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနလက်အောက်ရှိ စိုက်ပျိုးရေးဦးစီးဌာန(စက်မှုသီးနှံ)ပိုင် မန္တလေးတိုင်းဒေသကြီး၊ အမရပူရမြို့နယ်၊ နတ်ရေကန်ကျေးရွာရှိ ဌာနပိုင်မြေ(၇.၇၀)ကေအား Diamond Star Co., Ltd သို့ငှားရမ်းခြင်းအတွက် ပြင်ဆင်သည့် ဒုတိယအကြိမ်ပြင်ဆင်ချက် သဘောတူစာချုပ်(မူကြမ်း) အပေါ်သဘောထားမှတ်ချက်ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ပေးပို့လာသောကိစ္စဖြစ် ပါသည်။

၂။ ရည်ညွှန်းချက်စာနှင့်အတူ မူလစာချုပ်(မိတ္တူ)၊ ပြင်ဆင်ချက်သဘောတူစာချုပ် (မိတ္တူ) ထပ်မံပြင်ဆင်မည့် ပြင်ဆင်ချက်သဘောတူစာချုပ်(မူကြမ်း)တို့အား ပူးတွဲပေးပို့လာပြီး ထပ်မံ ပြင်ဆင်မည့် ပြင်ဆင်ချက်သဘောတူစာချုပ်(မူကြမ်း) စာချုပ်ဝင်များအပိုဒ်အောက်ရှိ အပိုဒ်(ခ)တွင် ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏ ၁၅-၁-၂၀၁၅ ရက်နေ့တွင် ကျင်းပပြုလုပ်သော အစည်းအဝေးအမှတ်

လျှို့ဝှက်

စဉ်(၂/ ၂၀၁၅)၏ သဘောတူခွင့်ပြုချက်အရ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန ၊ ဝန်ကြီးရုံး၏ ၁-၅-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၁ / ၁၈၀(က)(၁)( ၉၃၁(က) / ၂၀၁၅) ညွှန်ကြားစာဖြင့် စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာနနှင့် စိုက်ပျိုးရေးဦးစီးဌာနတို့ပူးပေါင်း၍ စိုက်ပျိုးရေးဦးစီးဌာန အမည်ဖြင့် ထပ်မံပြင်ဆင်ဖွဲ့စည်းခဲ့သည်ကို တွေ့ရှိရပါသည်။

၃။ ပေးပို့လာသော ဒုတိယအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ် (မူကြမ်း) အပေါ် ဥပဒေရှုထောင့်မှ လေ့လာစိစစ်၍ အောက်ပါအတိုင်း သုံးသပ် အကြံပြုအပ်ပါသည်-

(က) ရည်ညွှန်းချက်ပါစာနှင့်အတူ ပူးတွဲပေးပို့လာသော စာချုပ်များအားလေ့လာစိစစ်ရာတွင် မူလစာချုပ်အား ၁၈-၁-၁၃ ရက်နေ့တွင်လည်းကောင်း၊ ပထမအကြိမ်ပြင်ဆင်သည့် ပြင်ဆင်ချက်သဘောတူစာချုပ်အား ၂၀-၈-၂၀၁၅ ရက်နေ့တွင်လည်းကောင်း ချုပ်ဆိုခဲ့ပြီးဖြစ်ကြောင်း တွေ့ရှိရပါသည်။ ယခုထပ်မံပြင်ဆင်မည့် ပြင်ဆင်ချက်သဘောတူစာချုပ်သည် ဒုတိယအကြိမ်ပြင်ဆင်ချုပ်ဆိုမည့် သဘောတူစာချုပ်ဖြစ်ကြောင်းတွေ့ရှိရပါသဖြင့် စာချုပ်မျက်နှာဖုံး၊ ခေါင်းစဉ်နှင့်စည်းကမ်းချက်တို့တွင် ဒုတိယအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ်ဟု မင်နီဖြင့် ဖြည့်စွက်ပေး လိုက်ပါသည်၊

(ခ) မူလစာချုပ်၏ အပိုဒ် ၃ အငှားချထားသည့်ပစ္စည်း၏ အပိုဒ်ခွဲ ၃(ခ)တွင် "အဆောက်အဦများ" ဟု ပါရှိပါသည်။ ထို့ပြင် ယခုဒုတိယအကြိမ်ပြင်ဆင်ချက်စာချုပ်(မူကြမ်း)တွင်လည်း အဆောက်အဦများဆောက်လုပ်မည်ဟုပါရှိပါသည်။သို့ဖြစ်၍စာချုပ်(မူကြမ်း)တွင်စာချုပ်ခေါင်းစဉ်အား မြေနှင့်အဆောက်အဦငှားရမ်းခြင်းသဘောတူစာချုပ်ဟု ပြင်ဆင်မည်ဖြစ်ကြောင်း ဖော်ပြလျက်ပြင်ဆင်ရေးသားချုပ်ဆိုသင့်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) စာချုပ်ဝင်များအပိုဒ်အောက်ရှိ အပိုဒ်(ဂ)ပါ စည်းကမ်းချက်သည်အပိုဒ် ၁ရည်ရွယ်ချက်ခေါင်းစဉ်အောက်ရှိ အပိုဒ်ခွဲ(ဃ)တွင်ဖော်ပြထားကြောင်းတွေ့ရှိရပါသည်။ သို့ပါ၍ စာချုပ်ဝင်များအပိုဒ်အောက်ရှိအပိုဒ်(ဂ)အားပယ်ဖျက်ရန်ဖြစ်ပါသည်။ ထို့အပြင် အပိုဒ် ၁၊ အပိုဒ်ခွဲ(ဃ) ပါ စည်းကမ်းချက်နှင့်စပ်လျဉ်း၍ ဌာနမှလက်ခံခွင့်ပြုနိုင်ခြင်းရှိ မရှိ ပြန်လည် စိစစ်သင့်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် ၂ ထပ်မံဖြည့်စွက်မည့် မူလစာချုပ်၏ အပိုဒ် ၅၊ အပိုဒ်ခွဲ(ဥ)(ဎ)(ဏ)(တ)တို့တွင် ဖော်ပြပါရှိသည့် အဆိုပြုလွှာ/ သီးခြားအဆိုပြုလွှာ ဆိုသည့် စကားရပ်များမှာ မည်သည်ကိုဆိုလိုခြင်းဖြစ်ပါကြောင်း ရှင်းလင်းမှုမရှိပါသဖြင့် ရှင်းလင်းတိကျစွာဖော်ပြရန်လိုအပ်ပါသည်။ အဆိုပါအပိုဒ်ခွဲများ၌ဖော်ပြပါရှိသည့် လုပ်ကိုင်မည့်လုပ်ငန်းများနှင့် စပ်လျဉ်းသည့် စည်းကမ်းချက်များအား ဌာနအနေဖြင့် လက်ခံခွင့်ပြုနိုင်ခြင်းရှိ မရှိ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(င) စာချုပ်(မူကြမ်း) အပိုဒ် ၂ ထပ်မံဖြည့်စွက်မည့် မူလစာချုပ်၏ အပိုဒ် ၅၊ အပိုဒ်ခွဲ(တ)တွင် "ငှားရမ်းမြေဧရိယာအတွင်း စက်ရုံ၊ အဆောက်အဦများအား နိုင်ငံခြားသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဖက်စပ်ရင်းနှီးမြှုပ်နှံမှုပြုလုပ်ခွင့်နှင့် ပတ်သက်၍ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနသို့ သီးခြား အဆိုပြုလွှာတင်ပြ၍ခွင့်ပြုချက်ရရှိပြီးမှဆောင်ရွက်ရန်" ဟု ဖော်ပြထားပါသည်။ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းကိစ္စ များနှင့်စပ်လျဉ်း ၍ ဌာနမှလက်ခံခွင့်ပြုနိုင်ခြင်းရှိ မရှိနှင့်ဌာန၏ခွင့်ပြုချက်ရရှိပြီးမှသာ လုပ်ကိုင်ခွင့်ပြုသင့်ပါသည်။ ဌာနမှပြန်လည်စိစစ်သင့်ပါသည်၊

(စ) စာချုပ်(မူကြမ်း) အပိုဒ် ၂ ထပ်မံဖြည့်စွက်မည့် မူလစာချုပ်၏ အပိုဒ် ၅၊ အပိုဒ်ခွဲ(ထ)တွင် "ငှားရမ်းမြေဧရိယာအတွင်း လက်ရှိအဆောက်အဦအဟောင်းများ

အားဖျက်သိမ်းရန်ဖြစ်ပြီး အဆောက်အဦအသစ်များဆောက်လုပ်ခြင်းလုပ်ငန်းများဆောင်ရွက်ရန်အတွက်--------စည်းမျဉ်း၊ စည်းကမ်းများအတိုင်းလိုက်နာဆောင်ရွက်ရန်" ဟု ဖော်ပြထားပါသည်။ အဆိုပါဖော်ပြချက်နှင့် စပ်လျဉ်း၍ လက်ရှိအဆောက်အဦဟောင်းများဖျက်သိမ်း၍ အဆောက်အဦအသစ်အစားထိုးဆောက်လုပ်လိုခြင်းဟုတ် မဟုတ် (သို့မဟုတ်) အဆောက် အဦအသစ်များ ထပ်မံဆောက်လုပ်လိုခြင်းဟုတ် မဟုတ်တို့နှင့် စပ်လျဉ်း၍ မည်သို့ပြုလုပ်ဆောင်ရွက်လိုခြင်းဖြစ်ကြောင်း ရှင်းလင်းမှုမရှိပါသဖြင့် ရှင်းလင်းတိကျစွာဖော်ပြရန်လိုအပ်ပါသည်။ ဌာနမှပြန်လည်စိစစ်ရန်လိုအပ်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) အပိုဒ် ၄ အစားထိုးပြင်ဆင်မည့် မူလစာချုပ်၏ အပိုဒ် ၇၊ အပိုဒ်ခွဲ(က)တွင် "-------- ဌာနပိုင်မြေ(၇.၇၀)ဧကအား တစ်နှစ်လျှင် ၄၂၀၀၀၀၀၀ (ကျပ်လေးဆယ့်နှစ်သန်းတိတိ) နှုန်းဖြင့် ငှားရမ်းကြရန် သဘောတူကြပါသည်။ ငှားရမ်းခငွေအား ပြင်ဆင်ချက်သဘောတူစာချုပ်ချုပ်ဆိုသည့်နေ့မှစ၍ ငှားရမ်းခထပ်မံလိုအပ်ငွေကိုသာ ပေးသွင်းရန်ဖြစ်ပါသည်။ ဤငှားရမ်းခနှုန်းထားမှာ ကုမ္ပဏီ၏တည်ဆောက်ရေးကာလအတွက်သာဖြစ်ပါသည်" ဟု ဖော်ပြထားပါသည်။ မူလစာချုပ်ချုပ်ဆိုချိန်က ငှားရမ်းခကျပ်သိန်း ၂၀၀ ဖြစ်ပြီး၊ ပထမအကြိမ်ပြင်ဆင်ချက်စာချုပ်ချုပ်ဆိုစဉ်က ငှားရမ်းခ ၃၈၅၀၀၀၀၀ ကျပ်နှုန်းဖြင့် ငှားရမ်းခပြင်ဆင်ချုပ်ဆိုခဲ့ကြောင်း တွေ့ရှိရပါသည်။ ဤစာချုပ်(မူကြမ်း)တွင် ကျပ် ၄၂၀၀၀၀၀၀ ဖြင့် ငှားရမ်းခပြင်ဆင်ရာ အပိုဒ် ၇(က)ပါ ငှားရမ်းခငွေအား ပြင်ဆင်ချက်သဘောတူစာချုပ်ချုပ်ဆိုသည့်နေ့မှစ၍ ငှားရမ်းခထပ်မံလိုအပ်ငွေကိုသာ ပေးသွင်းရန်ဖြစ်ပါသည် ဟု ဖော်ပြထားရာ ငှားရမ်းခထပ်မံလိုအပ်ငွေအား မည်သည့်ကာလမှ

စတင်ရေတွက်သည်ဖြစ်ကြောင်းနှင့် မည်သည့်ကာလအတွက် ကျန်ရှိသော မည်မျှထပ်မံလိုအပ်သောငွေကို ဆိုလိုခြင်းဖြစ်ကြောင်း ရှင်းလင်းမှုမရှိပါသဖြင့် ရှင်းလင်းစွာဖော်ပြသင့်ပါသည်။ ငှားရမ်းခန့်မှန်းထားမှာ ကုမ္ပဏီ၏ တည်ဆောက်ရေးကာလအတွက်သာဖြစ်ကြောင်းဖော်ပြထားရာ တည်ဆောက်ရေးကာလမှာ မည်သည့်အချိန်မှစတင်ဆောင်ရွက်မည်ဖြစ်ပြီး ကာလမည်မျှကြာမည်ဖြစ်ကြောင်း၊ တည်ဆောက်ကာလကျော်လွန်ပါက ငှားရမ်းခန့်မှန်းထားကို မည်သို့ဆက်လက်ဆောင်ရွက်မည်ဖြစ်ကြောင်းတို့ကို ဖော်ပြထားမှုမရှိသည့်အတွက်နောင်အငြင်းပွားမှုမဖြစ်စေရေးဌာနမှသတိပြုဆောင်ရွက်သင့်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း)အပိုဒ် ၅ တွင် မူလစာချုပ်၏ စာချုပ်သက်တမ်းတိုးခြင်း ခေါင်းစဉ် အောက်ရှိ အပိုဒ် ၈ အားပယ်ဖျက်၍ အစားထိုးထားကြောင်းတွေ့ရှိရပါသည်။ မူလစာချုပ်(မိတ္တူ) ပထမအကြိမ် ပြင်ဆင်ချက်စာချုပ်(မိတ္တူ)နှင့် ဒုတိယအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ် (မူကြမ်း) တို့တွင် စာချုပ်သက်တမ်းတိုးခြင်းကိုသာဖော်ပြထားပြီး အရေးကြီး သောစည်းကမ်းချက်ဖြစ်သည့် စာချုပ်သက်တမ်းအားဖော်ပြထားခြင်းမရှိပါ။ ငှားရမ်းကာလနှင့် စာချုပ်သက်တမ်းသည် သဘောသဘာဝချင်းတူညီခြင်းမရှိသဖြင့် ဒုတိယအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ် (မူကြမ်း) တွင် စာချုပ်သက်တမ်းအား ဖော်ပြရန်လိုအပ်ပါသည်။ စာချုပ်သက်တမ်းသည် ငှားရမ်းကာလနှင့် ကိုက်ညီရန်လိုအပ်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း) တွင် ကွက်လပ်များပါရှိရာ စာချုပ်ချုပ်ဆိုချိန်တွင် ယင်းကွက်လပ်များအားပြည့်စုံစွာဖြည့်စွက်ပြီးဖြစ်ရန် လိုအပ်ပါသည်၊

(ည) လိုအပ်သောနေရာများတွင် မင်နီဖြင့်ပြင်ဆင်ဖြည့်စွက်ပေးလိုက်ပါသည်။

၄။ တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရ အစိုးရတံဆိပ်ခေါင်းခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်မရရှိသေးလျှင် ကျသင့်သောတံဆိပ်ခေါင်းခွန်ကို အငှားချထားခြင်းခံရသူက ထမ်းဆောင် ရမည်ဖြစ်ပါသည်။

၅။ ဤ စာချုပ်(မူကြမ်း) ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေ ကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်း ဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့်မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍သက်ဆိုင်ရာကျွမ်းကျင်သူများနှင့်ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန်အကြံပြုပါသည်။

၆။ Diamond Star Co., Ltd သည် ဥပဒေအရတရားဝင်ဖွဲ့စည်းထားသော ကုမ္ပဏီ ဟုတ် မဟုတ်၊ စာချုပ်များပါ လုပ်ငန်းများကိုလုပ်ကိုင်နိုင်ခွင့်နှင့် လုပ်ကိုင်နိုင်စွမ်းရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်း ခံရသူ ဟုတ် မဟုတ် စသည်တို့အတွက် သက်ဆိုင်ရာစာရွက်စာတမ်းများတောင်းယူ စိစစ်သင့် ပါသည်။

၇။ ဤ စာချုပ်(မူကြမ်း) ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင် ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၈။ ဤ အကြံပြုချက်ကို လျှို့ဝှက်အဆင့် သတ်မှတ်ဆောင်ရွက်ရန် ဖြစ်ပါသည်။

၂၈.၁၂.၂၀၁၅

( ကျော်ဆန်း )

ညွှန်ကြားရေးမှူးချုပ်(တာဝန်)

လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

ဝန်ကြီးရုံး

မိတ္တူ - ရုံးလက်ခံ/ မျှောစာတွဲ

# မန္တလေးတိုင်းဒေသကြီး၊ အမရပူရမြို့နယ်၊

# နတ်ရေကန်ကျေးရွာရှိ ဌာနပိုင်မြေ(၇.၇၀)ကေနှင့်အဆောက်အဦအား

# ငှားရမ်းခြင်းသဘောတူစာချုပ်အားပြင်ဆင်သည့်

# ဒုတိယအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ်

လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန

စိုက်ပျိုးရေးဦးစီးဌာန(စက်မှုသီးနှံ)

နှင့်

Diamond Star Co., Ltd

၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၃၀ ရက်

## မန္တလေးတိုင်းဒေသကြီး၊ အမရပူရမြို့နယ်၊ နတ်ရေကန်ကျေးရွာရှိ ဌာနပိုင်မြေ(၇.၇၀)ဧကနှင့် အဆောက်အဦအား ငှားရမ်းခြင်းကို ပြင်ဆင်သည့် ဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်

ဤဒုတိယအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ်ကို(နောင်တွင်မူလစာချုပ်ဟုခေါ်ဆိုမည်) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၊နေပြည်တော်၌ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ(၃၀)ရက်၌ ဦးကျော်ရွှေ၊ ညွှန်ကြားရေးမှူးချုပ် ကိုယ်စားပြုသော နေပြည်တော်၊ရုံးအမှတ်(၅၀)တွင်တည်ရှိသည့် လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊စိုက်ပျိုးရေးဦးစီးဌာန (စက်မှုသီးနှံ)၊(နောင်တွင် "**အငှားချထားသူ**" ဟုခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်၌ ၎င်းအားဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများပါဝင်သည်)က တစ်ဖက်နှင့် ဒေါ်အေးစန္ဒာလွင်၊ ဒါရိုက်တာ (နိုင်ငံသားစိစစ်ရေးကဒ်အမှတ်- ၁၂/ဥကမ(နိုင်) ၀၁၃၇၅၅)ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၊ ရန်ကုန်တိုင်းဒေသကြီးရှိ အမှတ်-(၂၅၆/၂၆၀)၊ဆူးလေဘုရားလမ်း၊ရန်ကုန်မြို့တွင် တည်ရှိသော Diamond Star Co., Ltd (နောင်တွင်"**အငှားချထားခြင်းခံရသူ**"ဟုခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်၌ ၎င်းအားဆက်ခံသူများ၊ ဥပဒေအရလွှဲအပ်ခံရသူများနှင့် တရားဝင်ကိုယ်စားလှယ်များပါဝင်သည်)က အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များကိုသတ်မှတ်၍ ဤဒုတိယအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ်ကို နှစ်ဦးသဘောတူစာချုပ် ချုပ်ဆိုကြပါသည်-

(က) အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့အကြား မန္တလေးတိုင်းဒေသကြီး၊ အမရပူရမြို့နယ်၊ နတ်ရေကန်ကျေးရွာရှိ ဌာနပိုင်မြေ(၇.၇၀)ဧကအား ငှားရမ်းခြင်းသဘောတူစာချုပ်ကို ၂၀၁၃ ခုနှစ် ဇန်နဝါရီလ ၁၈ ရက်နေ့တွင် နှစ်ဦးသဘောတူစာချုပ်(နောင်တွင် "မူလစာချုပ်"ဟုခေါ်တွင်ရမည် ဖြစ်သည်) ချုပ်ဆို၍ ငှားရမ်းခဲ့သည်ကတစ်ကြောင်း၊၂၀၁၅ ခုနှစ်ဩဂုတ်လ ၂၀ ရက်နေ့တွင် မူလစာချုပ်အား ပြင်ဆင်သည့်"ပြင်ဆင်ချက်သဘောတူစာချုပ်"အား ချုပ်ဆိုခဲ့သည်ကတစ်ကြောင်း၊

(ခ) ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏ ၁၉.၁.၂၀၁၂ ရက်တွင် ကျင်းပပြုလုပ်သော အစည်းအဝေး အမှတ်စဉ် ၃/၂၀၁၂ ၏သဘောတူခွင့်ပြုချက်အရ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ ၃.၂.၂၀၁၂ ရက်စွဲပါ စာအမှတ်၊ ၁/၁၈၀(ခ)(၄)(၁၈၉/၂၀၁၂) ညွှန်ကြားစာဖြင့် စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန အမည်ဖြင့် ပြင်ဆင်ဖွဲ့စည်းခဲ့ပြီး ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏ ၁၅.၁.၂၀၁၅ ရက်တွင် ကျင်းပပြုလုပ်သော အစည်းအဝေးအမှတ်စဉ် ၂/၂၀၁၅ ၏သဘောတူခွင့်ပြုချက်အရ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ ၁.၅.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၁/၁၈၀(က)(၁)(၉၃၁(က)/၂၀၁၅)ညွှန်ကြားစာဖြင့် စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာနနှင့် စိုက်ပျိုးရေးဦးစီးဌာနတို့ ပူးပေါင်း၍ စိုက်ပျိုးရေးဦးစီးဌာန အမည်ဖြင့် ထပ်မံပြင်ဆင်ဖွဲ့စည်းခဲ့သည်က တစ်ကြောင်း၊

(ဂ) စာချုပ်ပြင်ဆင်ခွင့်ကို လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၏

၂.၁၁.၂၀၁၅ ရက်စွဲပါ စာအမှတ် ၄/၂၂၀(က)(၁)(၂၄၀၆/၂၀၁၅) ဆုံးဖြတ်ချက်အရ တစ်ကြောင်း၊

(...၁) ငှားရမ်းမြေဧရိယာမူလစာချုပ် အပိုဒ်(၁၅) ပြင်ဆင်ခြင်းတွင် စာချုပ်ပါစည်းကမ်းချက်များအား ဖြည့်စွက်ခြင်း၊ ပြင်ဆင်ခြင်းကို စာချုပ်ဝင်နှစ်ဦးနှစ်ဖက်စာဖြင့်ရေးသား၍ သဘောတူညီချက်ရရှိပြီးခွင့်ပြုနိုင်သည့် အထက်အဖွဲ့အစည်းအဆင့်ဆင့်သို့ တင်ပြပြင်ဆင်ခွင့်ရှိသည် ဟု ဖော်ပြထားသည်ကတစ်ကြောင်း၊

( ) မူလစာချုပ်ပါ အချို့စည်းကမ်းချက်များအား ထပ်မံဖြည့်စွက်လိုခြင်းနှင့် အစားထိုးပြင်ဆင်လိုခြင်းတို့ကြောင့်တစ်ကြောင်း အောက်ပါ စည်းကမ်းချက်များနှင့်အညီ ဤဒုတိယအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ်ကို ထပ်မံ ချုပ်ဆိုခြင်း ဖြစ်ပါသည်။

၁။ မူလစာချုပ် အပိုဒ် ၁ စာပိုဒ်၏အောက်တွင် အပိုဒ် ၁(က) အဖြစ် မူလစာချုပ်တွင် ပါဝင်ခဲ့ခြင်းမရှိသည့် **ရည်ရွယ်ချက်** ခေါင်းစဉ်ဖြင့် အောက်ပါစာပိုဒ်အား ထည့်သွင်းရမည်-

**ရည်ရွယ်ချက်**

လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာန(စက်မှုသီးနှံ)ပိုင် မန္တလေးတိုင်းဒေသကြီး၊ အမရပူရမြို့နယ်၊ နတ်ရေကန်ကျေးရွာရှိ မြေဧရိယာ (၇.၇၀)ဧကကို အောက်ပါရည်ရွယ်ချက်များနှင့်အညီငှားရမ်းဆောင်ရွက်ပါမည်-

(က) ပုဂ္ဂလိကကဏ္ဍမှ နိုင်ငံစီးပွားရေးတိုးတက်မြှင့်တင်ရန်နှင့် ပုဂ္ဂလိကစီးပွားရေးလုပ်ငန်းကဏ္ဍတွင် ခိုင်မာစွာရပ်တည်နေနိုင်ရန်အတွက် ကုန်ထုတ်လုပ်ငန်းများတွင် ပါဝင်ဆောင်ရွက်ရန်၊

ဌာနမှ လုပ်ငန်းများဆောင်ရွက်ခြင်းမရှိသည့်ဧရိယာပေါ်တွင် ပုဂ္ဂလိကသို့ ငှားရမ်းခြင်းဖြင့် ဝင်ငွေတိုးတက်ရရှိစေရန်၊

နိုင်ငံတော်အနေဖြင့် ဘဏ္ဍာငွေတိုးတက်ရရှိသကဲ့သို့ ဆင်းရဲနွမ်းပါးမှုလျော့ချရေး ရည်မှန်းချက်အရ အလုပ်သမားများ အလုပ်အကိုင် အခွင့်အလမ်းများ ရရှိစေရန်၊

( ) ငှားရမ်းဧရိယာပေါ်တွင် စိုက်ပျိုးရေးလုပ်ငန်းနှင့်ဆက်စပ်သော Logistic Hub (Refrigerated Cold Chain Warehouse, General Merchandised Store) and Training Centre နှင့်စားသောက်ကုန်များ၊ စိုက်ပျိုးရေးအခြေခံ လယ်ယာထွက်ကုန်သီးနှံများအား သန့်စင်ခြင်း၊ ပြုပြင်ထုတ်ပိုးခြင်း၊သိုလှောင်ခြင်းနှင့် ငှားရမ်းခြင်းဝန်ဆောင်မှုလုပ်ငန်းများကို ဆောင်ရွက်ခြင်းနှင့်အထွေထွေကုန်ပစ္စည်းများ ရောင်းဝယ်ဖောက်ကားခြင်းအား ပြန်လည် ငှားရမ်းသောလုပ်ငန်း၊အသက်မွေးဝမ်းကျောင်းအထောက်အကူပြု အခြေခံကျောင်းများ (စားသောက်ကုန်/စိုက်ပျိုးရေး) သင်တန်းကျောင်းများ၊ တည်းခိုဆောင်လုပ်ငန်းများ ဆောင်ရွက်ခြင်းဖြင့် ပြည်တွင်း၌ စက်မှုအခြေခံကုန်ထုတ်လုပ်ငန်းများဖွံ့ဖြိုးတိုးတက်စေရန်၊

(င) နိုင်ငံတော်မှ လိုအပ်လျက်ရှိသော စိုက်ပျိုးရေးအခြေခံထုတ်ပစ္စည်းများအတွက် အရေးပါသော Supply Chain တစ်ခု နိုင်ငံတော်တွင် ပေါ်ပေါက်လာစေရန်၊

၂။ မူလစာချုပ်၏ အငှားချထားခြင်းခံရသူ၏တာဝန် ခေါင်းစဉ်အောက်ရှိ အပိုဒ် ၅ တွင် အောက်ပါ စာပိုဒ်များအား အပိုဒ်ခွဲ (ဍ)(ဎ)(ဏ)(တ)(ထ)(ဒ) အဖြစ် ထပ်မံ ဖြည့်စွက်ရမည်-

(ဍ) ငှားရမ်းမြေဧရိယာအတွင်း ဆောင်ရွက်မည့် လုပ်ငန်းအစီအစဉ်နှင့် ပတ်သက်၍ လယ်ယာကဏ္ဍဖွံ့ဖြိုးတိုးတက်စေရေးနှင့် စပ်လျဉ်းသည့် လုပ်ငန်းများဖြစ်စေရေး တာဝန်ယူ ဆောင်ရွက်ရန်နှင့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့သည့် အဆိုပြုလွှာတွင် ပါဝင်သည့် စားသောက်ကုန်များ၊ စိုက်ပျိုးရေးအခြေခံလယ်ယာ ထွက်ကုန်သီးနှံများအား သန့်စင်ခြင်း၊ ပြုပြင်ထုတ်ပိုးခြင်း၊ သိုလှောင်ခြင်းနှင့် ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းများကို ဆောင်ရွက်ခြင်းစသည့် လုပ်ငန်းများကိုသာ ဆောင်ရွက်ရန်၊

(ဎ) အထွေထွေကုန်ပစ္စည်းများ ရောင်းဝယ်ဖောက်ကားခြင်းအား ပြန်လည်ငှားရမ်းသော လုပ်ငန်း၊အသက်မွေးဝမ်းကျောင်း အထောက်အကူပြု အခြေခံကျောင်းများ (စားသောက်ကုန်/စိုက်ပျိုးရေး) သင်တန်းကျောင်းများဖွင့်ရန်နှင့် တည်းခိုဆောင်လုပ်ငန်းများလုပ်ကိုင်ရန်အတွက် နိုင်ငံတော်၏တည်ဆဲဥပဒေများအရဆောင်ရွက်ရန်၊

(ဏ) ငှားရမ်းမြေဧရိယာပေါ်ရှိ စက်ရုံ၊အဆောက်အဦများအတွက် နိုင်ငံခြားသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဖက်စပ်ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ခွင့်အား ဆောင်ရွက်ရန်၊

(တ) ငှားရမ်းမြေဧရိယာအတွင်း လက်ရှိ အဆောက်အဦအဟောင်းများအား ဖျက်သိမ်းရန်ဖြစ်ပြီး အဆောက်အဦအသစ်များ ဆောက်လုပ်ခြင်းလုပ်ငန်းများ ဆောင်ရွက်ရန်အတွက် သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် တိုင်းစည်ပင်သာယာရေးကော်မတီတို့၏သတ်မှတ်ထားသည့် စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာ ဆောင်ရွက်ရန်၊

(ဒ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိပြီးမှသာ လုပ်ငန်းများ စတင်ဆောင်ရွက်ရန်၊

၃။ မူလစာချုပ်၏ ငှားရမ်းသည့်ကာလ ခေါင်းစဉ်အောက်ရှိ အပိုဒ် ၆ စာပိုဒ်အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

၆။ ငှားရမ်းခြင်းကာလမှာ အငှားချထားသည့်မြေကို တရားဝင်လွှဲအပ်ပေးသည့် ၃၀.၃.၂၀၁၂ ရက်နေ့မှ စ၍ (၅၀)နှစ် ဖြစ်သည်။ သက်တမ်းတိုးလိုပါက အငှားချထားသူ၏ အတည်ပြုချက်ဖြင့် တစ်ကြိမ်လျှင် (၁၀)နှစ် သက်တမ်းဖြင့် သက်တမ်း(၂)ကြိမ် တိုးမြှင့်နိုင်သည်။

၄။ မူလစာချုပ်၏ ငှားရမ်းခ ခေါင်းစဉ်အောက်ရှိ အပိုဒ် ၇ (က) (ခ) (ဂ) စာပိုဒ်များ အား ပယ်ဖျက်၍ အောက်ပါ စာပိုဒ်များဖြင့် အစားထိုးပြင်ဆင်ရမည်-

၇။ (က) အငှားချထားမည့် ဌာနပိုင်မြေ(၇.၇၀)ဧကအား တစ်နှစ်လျှင် ၄၂၀၀၀၀၀၀ိ/- (ကျပ်လေးဆယ့်နှစ်သန်းတိတိ)နှုန်းဖြင့် ငှားရမ်းကြရန် သဘောတူကြပါသည်၊ ငှားရမ်းခငွေအား ပြင်ဆင်ချက်သဘောတူစာချုပ်ချုပ်ဆိုသည့်နေ့မှ စ၍ ငှားရမ်းခ ထပ်မံ လိုအပ်ငွေကိုသာ ပေးသွင်းရန် ဖြစ်ပါသည်၊

(ခ) အငှားချထားမည့် ဌာနပိုင်မြေ(၇.၇၀)ဧက၏ ငှားရမ်းခအား တစ်နှစ်တစ်ကြိမ် ငွေပေးသွင်းသည့်စနစ်ဖြင့် ငှားရမ်းကာလ မစေ့ရောက်မီတစ်ပတ်အတွင်း ကြိုတင်၍စိုက်ပျိုးရေးဦးစီးဌာန (စက်မှုသီးနှံ)၊ ငွေစာရင်းအမှတ် MD-013288၊ မြန်မာ့စီးပွားရေးဘဏ်၊နေပြည်တော်သို့ အပြေအကျေ ပေးချေရမည်။ စေ့ရောက်သည့်နေ့ရက်တွင် ပေးချေခြင်း မရှိပါက ဒဏ်ကြေးအဖြစ် တစ်လလျှင် တစ်နှစ်စာငှားရမ်းခ၏ ၂%နှုန်းဖြင့်ကျော်လွန်ရက် အတိအကျ တွက်ချက်၍ ထပ်ဆောင်းပေးချေရမည်။

(ဂ) ငှားရမ်းကာလ(၅)နှစ်ပြည့်မြောက်တိုင်း အဆိုပါငှားရမ်းကာလပြည့်မည့်နေ့ မတိုင်မီ (၆)လ ကြိုတင်၍ ငှားရမ်းခအား လုပ်ငန်းအကျိုးအမြတ်အပေါ် မူတည်၍ ပြန်လည် ညှိနှိုင်းရန် သဘောတူညီပါသည်။

၅။ မူလစာချုပ်၏ စာချုပ်သက်တမ်းတိုးခြင်း ခေါင်းစဉ် အောက်ရှိအပိုဒ် ၈ အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးရမည်-

၈။ အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်းကုန်ဆုံးပြီးနောက် ဆက်လက်ငှားရမ်းလိုပါက စာချုပ်သက်တမ်းမကုန်ဆုံးမီ အနည်းဆုံး(၆)လ ကြိုတင်၍ ငှားရမ်းလိုသည့်ကာလကို ဖော်ပြပြီး အငှားချထားသူထံသို့ စာဖြင့်တင်ပြရမည် ဖြစ်သည်။ ထပ်မံငှားရမ်းမည့်ကာလအတွက် ငှားရမ်းခကို နှစ်ဦးနှစ်ဖက် ညှိနှိုင်းသတ်မှတ်၍ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနမှ သဘောတူညီပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက် ရယူပြီး စာချုပ်သက်တမ်းကို တိုးမြှင့် နိုင်ပါသည်။

၆။ အပိုဒ် ၉ စာပိုဒ်၏အောက်တွင် အပိုဒ် ၉(က) အဖြစ် မူလစာချုပ်တွင် ပါဝင်ခဲ့ခြင်းမရှိသည့် **စာချုပ်သက်တမ်း** ခေါင်းစဉ်ဖြင့် အောက်ပါစာပိုဒ်အား ထည့်သွင်းရမည်-

**စာချုပ်သက်တမ်း**

၉(က)။ ဤစာချုပ်သက်တမ်းသည် အငှားချထားသည့်မြေကို တရားဝင်လွှဲအပ်ပေးသည့် ၃၀.၃.၂၀၁၂ ရက်နေ့မှ စ၍ (၅၀)နှစ် ဖြစ်သည်။

၇။ မူလစာချုပ်၏ အကြောင်းကြားစာ ခေါင်းစဉ် အောက်ရှိအပိုဒ် ၂၃(က)နှင့်(ခ) စာပိုဒ်များအား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးရမည်-

**(က) အငှားချထားသူ**

| | | | |
|---|---|---|---|
| (၁) | အမည် | - | ဦးကျော်ရွှေ |
| (၂) | ရာထူး | - | ညွှန်ကြားရေးမှူးချုပ် |
| (၃) | လိပ်စာ | - | စိုက်ပျိုးရေးဦးစီးဌာန |
| (၄) | ဖုန်းအမှတ် | - | ၀၆၇- ၄၁၀၁၀၀ |
| (၅) | ဖက်(စ်) | - | ၀၆၇- ၄၁၀၁၁၅ |
| (၆) | အီးမေးလ် | - | micdemoai@gmail.com |

(ခ)　အငှားချထားခြင်းခံရသူ

| | | | |
|---|---|---|---|
| (၁) | အမည် | - | ဒေါ်အေးစန္ဒာလွင် |
| (၂) | ရာထူး | - | ဒါရိုက်တာ<br>Diamond Star Co., Ltd |
| (၃) | လိပ်စာ | - | ၂၅၆/၂၆၀၊ဆူးလေဘုရားလမ်း<br>ရန်ကုန်မြို့ |
| (၄) | ဖုန်းအမှတ် | - | ၀၁- ၂၅၅၆၂၊ ၀၁- ၂၅၆၇၄<br>၀၁- ၃၇၃၃၈၈ |
| (၅) | ဖက်(စ်) | - | ၀၁- ၂၅၅၀၃ |
| (၆) | အီးမေးလ် | - | - |

၇။　ဤဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်သည် မူလစာချုပ်၏ အစိတ်အပိုင်းတစ်ရပ်အဖြစ် မှတ်ယူရမည်။

၈။　အထက်ဖော်ပြပါပြင်ဆင်ဖြည့်စွက်သော စည်းကမ်းချက်များမှအပ မူလစာချုပ်၏ ကျန်စည်းကမ်းချက်များသည် ပြောင်းလဲမှုမရှိဘဲ ဆက်လက်အကျိုးသက်ရောက်မှု ရှိရမည်။

၉။　ဤဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်သည် စာချုပ်ဝင်များနှစ်ဖက် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်မည် ဖြစ်သည်။

ဤစာချုပ်ချုပ်ဆိုသူများကအထက်တွင် ရေးသားဖော်ပြထားသည့် စည်းကမ်းချက်များ ကို သဘောတူသဖြင့် ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ( ၃၀ ) ရက်၌ မိမိတို့၏ တံဆိပ်များကို ခပ်နှိပ် ကြလျှက် လက်မှတ်ရေးထိုး အတည်ပြုကြပါသည်။

**အငှားချထားသူ(ကိုယ်စား)**

ထိုးမြဲလက်မှတ် -----------------------

အမည် - ဦးကျော်ရွှေ

ရာထူး - ညွှန်ကြားရေးမှူးချုပ်

ဌာန - စိုက်ပျိုးရေးဦးစီးဌာန

**အငှားချထားခြင်းခံရသူ(ကိုယ်စား)**

ထိုးမြဲလက်မှတ်---------------------

အမည် - ဒေါ်အေးစန္ဒာလွင်

ရာထူး - ဒါရိုက်တာ

Diamond Star Co., Ltd

**အသိသက်သေ**

ထိုးမြဲလက်မှတ် -----------------------

အမည် - ဦးအောင်မော်

ရာထူး - ညွှန်ကြားရေးမှူး

ဌာန - စိုက်ပျိုးရေးဦးစီးဌာန (စက်မှုသီးနှံ)

**အသိသက်သေ**

ထိုးမြဲလက်မှတ်---------------------

အမည် - ဒေါ်ခရေမင်းဆောင်

ရာထူး - မန်နေဂျာ

နိုင်ငံသားစိစစ်ရေးကဒ်-၇/ရကန(နိုင်)၁၁၁၁၉၆

ပုဂ္ဂလိကသို့ လွှဲပြောင်းပေးမည့်ဧရိယာစာရင်း

| ဦးပိုင်အမှတ် | အခွန်စည်းကြပ်ခံရသူ/ပိုင်ရှင်/ဂရန်ရှင်/အငှားဂရန်ရှင် အမည် | ပိုင်ဆိုင်ခွင့် | မြေမျိုးနှင့်အတန်း | ဧရိယာ (ဧက) | မှတ်ချက် |
|---|---|---|---|---|---|
| ၇/၃ | အစိုးရ | | လ/န(၃၉) | ၂. ၄၈ | တ. ဝ. တ မန္တလေးတိုင်း၊ မန္တလေးမြို့၏ (၁၀. ၁၀. ၁၉၉၁) ရက်စွဲပါအမိန့်အမှတ် (၃၄/၉၁) နှင့်တ. ဝ. တရုံး အမှုတွဲအမှတ် (၃၅၁/၉၁)အရ လ/န(၃၉) (၁. ၉၈)ဧကကျပြီး |
| ၉က/၃ | ။ | | ။ | ၀. ၂၀ | |
| ၁၁-ဃ | ။ | | ။ | ၂. ၁၅ | |
| ၁၁-င | ။ | | ။ | ၁. ၀၇ | |
| 66/1613 | ။ | | ။ | ၀. ၃၀ | (၀. ၂၂)ဧက လ/န(၃၉)ကျပြီး |
| 66/1614 | ။ | | ။ | ၀. ၃၄ | (၀. ၂၂)ဧက လ/န(၃၉)ကျပြီး |
| 66 | ။ | | OA | ၀. ၂၄ | |
| လမ်းမြေ | ။ | | OA | ၀. ၉၉ | |
| | | | | | |
| | | | | ၇. ၇၀ | |

ဦး စိုး အောင်ရှိ
မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန
အမရပူရမြို့။

လက်ထောက်ဦးစီးမှူး (စစ်ဆေးရေး)
မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန
အမရပူရမြို့။

(မြေတိုင်း-၄)
မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန
အမရပူရမြို့။

# ဝါစက်ရုံ ပတ်ဝန်းကျင်ပြမြေပုံ




ဦး ခင် ဘ ဆု ရှိ
မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန
အမရပူရမြို့။

ရည်ညွှန်းချက်

ဦးပိုင်ခြားဆေး
ကားလမ်း
ငှားရမ်းမည့်နေရာ

လက်ထောက်ဦးစီးမှူး (စစ်ဆေးရေး)
မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန
အမရပူရမြို့။

(မြေတိုင်း-၄)
မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန
အမရပူရမြို့။

# စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန

# အမရပူရမြို့နယ်၊နတ်ရေကန်ကျေးရွာရှိမြေ(၇.၇၀)ဧကအား

# ငှားရမ်းခြင်းသဘောတူစာချုပ်အားပြင်ဆင်သည့်

# ပြင်ဆင်ချက်သဘောတူစာချုပ်

လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန

စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန

နှင့်

DIAMOND STAR CO., LTD

၂၀၁၅ ခုနှစ် ဩဂုတ်လ ၂၀ ရက်

# ပြင်ဆင်ချက်သဘောတူစာချုပ်

ဤပြင်ဆင်ချက်သဘောတူစာချုပ်ကို(နောင်တွင်မူလစာချုပ်ဟုခေါ်ဆိုမည်) ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံ၊နေပြည်တော်၌ ၂၀၁၅ ခုနှစ်ဩဂုတ်လ (၂၀)ရက်၌ ဦးကျော်ရွှေ၊ ညွှန်ကြားရေးမှူးချုပ် ကိုယ်စားပြုသော နေပြည်တော်၊ ရုံးအမှတ်(၅၀)တွင် တည်ရှိသည့် လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန(ရုံးချုပ်)၊(နောင်တွင်**"အငှားချထားသူ"** ဟုခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်၌ ၎င်းအားဆက်ခံသူများနှင့်ဥပဒေအရလွှဲအပ်ခြင်းခံရသူများ ပါဝင်သည်)ကတစ်ဖက်နှင့် ဒေါ်အေးစန္ဒာလွင်၊ ဒါရိုက်တာ (နိုင်ငံသားစိစစ်ရေးကဒ်အမှတ် - ၁၂/ဥကမ(နိုင်)၀၁၃၇၅၅)ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၊ ရန်ကုန်တိုင်းဒေသကြီးရှိ အမှတ်-(၂၅၆/၂၆၀)၊ဆူးလေဘုရားလမ်း၊ရန်ကုန်မြို့တွင် တည်ရှိသော Diamond Star Co., Ltd (နောင်တွင်**"အငှားချထားခြင်းခံရသူ"**ဟုခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်၌ ၎င်းအားဆက်ခံသူများ၊ဥပဒေအရလွှဲအပ်ခံရသူများနှင့်တရားဝင်ကိုယ်စားလှယ်များပါဝင်သည်)က အခြားတစ်ဖက်တို့သည်အောက်ပါစည်းကမ်းချက်များကိုသတ်မှတ်၍ ဤပြင်ဆင်ချက်သဘောတူစာချုပ်ကို နှစ်ဦးသဘောတူစာချုပ် ချုပ်ဆိုကြပါသည်-

(က) အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့အကြား မန္တလေးတိုင်းဒေသကြီး၊ အမရပူရမြို့နယ်၊ နတ်ရေကန်ကျေးရွာရှိ ဌာနပိုင်မြေ(၇.၇၀)ဧကအား ငှားရမ်းခြင်းသဘောတူစာချုပ်ကို ၂၀၁၃ ခုနှစ် ဇန်နဝါရီလ ၁၈ ရက်နေ့တွင် နှစ်ဦးသဘောတူစာချုပ်(နောင်တွင် "မူလစာချုပ်"ဟုခေါ်တွင်ရမည် ဖြစ်သည်) ချုပ်ဆို၍ ငှားရမ်းခဲ့သည်ကတစ်ကြောင်း၊

(ခ) စာချုပ်ပြင်ဆင်ခွင့်ကို လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၏ ၃.၄.၂၀၁၄ ရက်စွဲပါ စာအမှတ် ၄/ ၂၂၀(က)(၁)( ၈၆၅ /၂၀၁၄) ဆုံးဖြတ်ချက်အရ တစ်ကြောင်း၊

(ဂ) မူလစာချုပ် အပိုဒ်(၁၅) ပြင်ဆင်ခြင်းတွင် စာချုပ်ပါစည်းကမ်းချက်များအား ဖြည့်စွက်ခြင်း၊ပြင်ဆင်ခြင်းကို စာချုပ်ဝင်နှစ်ဦးနှစ်ဖက်စာဖြင့်ရေးသား၍ သဘောတူညီချက်ရရှိပြီးခွင့်ပြုနိုင်သည့် အထက်အဖွဲ့အစည်းအဆင့်ဆင့်သို့ တင်ပြပြင်ဆင်ခွင့်ရှိသည် ဟု ဖော်ပြထားသည်ကတစ်ကြောင်း၊

(ဃ) မူလစာချုပ်ပါ အချို့စည်းကမ်းချက်များအား ထပ်မံဖြည့်စွက်လိုခြင်းနှင့် အစားထိုးပြင်ဆင်လိုခြင်းတို့ကြောင့်တစ်ကြောင်း အောက်ပါ စည်းကမ်းချက်များနှင့်အညီ ဤပြင်ဆင်ချက်သဘောတူစာချုပ်ကို ချုပ်ဆိုခြင်း ဖြစ်ပါသည်။

၁။ မူလစာချုပ်၏ အငှားချထားသည့်ပစ္စည်း ခေါင်းစဉ်အောက်ရှိ အပိုဒ် ၃(က) မြေနှင့် အပိုဒ် ၃(ခ) အဆောက်အဦစာပိုဒ်များအား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-






၁။ စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန၊ မန္တလေးတိုင်းဒေသကြီး၊ အမရပူရမြို့နယ်၊ နတ်ရေကန်ကျေးရွာရှိ နောက်ဆက်တွဲ(က)ပါ ဌာနပိုင်မြေ (၇.၇၀)ဧကနှင့် ၄င်းမြေပေါ်ရှိ နောက်ဆက်တွဲ (ခ)ပါ ဂိုဒေါင်နှင့် အဆောက်အဦများအား ငှားရမ်းရန် သဘောတူညီပါသည်။

၂။ မူလစာချုပ်၏ ငှားရမ်းသည့်ကာလ ခေါင်းစဉ်အောက်ရှိ အပိုဒ် ၆ စာပိုဒ်အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

၆။ ငှားရမ်းခြင်းကာလမှာ အငှားချထားသည့်မြေကို တရားဝင်လွှဲအပ်ပေးသည့် ၁၀.၃.၂၀၁၂ ရက်နေ့မှ စ၍ (၅)နှစ် ဖြစ်သည်။ သက်တမ်းတိုးလိုပါက အငှားချထားသူ၏ အတည်ပြုချက်ဖြင့် တစ်ကြိမ်လျှင် (၅)နှစ်သက်တမ်းဖြင့် သက်တမ်း(၃)ကြိမ် တိုးမြှင့်နိုင်သည်။

၃။ မူလစာချုပ်၏ ငှားရမ်းခ ခေါင်းစဉ်အောက်ရှိ အပိုဒ် ၇ (က) (ခ) (ဂ) နှင့်(ဃ) စာပိုဒ်များအား ပယ်ဖျက်၍ အောက်ပါ စာပိုဒ်များဖြင့် အစားထိုးပြင်ဆင်ရမည်-

၇။ (က) အငှားချထားသောမြေနှင့် ဆောက်လုပ်ထားသောအဆောက်အဦများအား တစ်နှစ်လျှင်ကျပ် ၃၈၅၀၀၀၀၀/-(ကျပ်သုံးရာရှစ်ဆယ့်ငါးသိန်းတိတိ) နှုန်းဖြင့် ငှားရမ်းကြရန် သဘောတူကြပါသည်၊ငှားရမ်းခငွေအား ပြင်ဆင်ချက်သဘောတူစာချုပ်ချုပ်ဆိုသည့်နေ့မှစ၍ ငှားရမ်းခ ထပ်မံလိုအပ်ငွေကိုသာ ပေးသွင်းရန် ဖြစ်ပါသည်၊

(ခ) အငှားချထားသောမြေနှင့်ဆောက်လုပ်ထားသော အဆောက်အဦများ၏ ငှားရမ်းခအားတစ်နှစ်တစ်ကြိမ် ငွေပေးသွင်းသည့်စနစ်ဖြင့် ငှားရမ်းကာလ မစေ့ရောက်မီ တစ်ပတ်အတွင်း ကြိုတင်၍ စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန၊ ငွေစာရင်းအမှတ် MD-012069 ၊ မြန်မာ့စီးပွားရေးဘဏ်၊ နေပြည်တော်သို့ အပြေအကျေ ပေးချေရမည်။ စေ့ရောက်သည့်နေ့ရက်တွင် ပေးချေခြင်း မရှိပါကဒဏ်ကြေးအဖြစ် တစ်လလျှင် တစ်နှစ်စာငှားရမ်းခ၏ ၂% နှုန်းဖြင့် ကျော်လွန်ရက်အတိအကျ တွက်ချက်၍ ထပ်ဆောင်းပေးချေရမည်။

(ဂ) ငှားရမ်းကာလ(၅)နှစ်ပြည့်မည့် ၁၀.၃.၂၀၁၇ နေ့ မတိုင်မီ(၆)လ ကြိုတင်၍ ငှားရမ်းခအား ပြန်လည်ညှိနှိုင်းရမည်ဖြစ်ပြီး ဆက်လက်၍ ငှားရမ်းခအား လုပ်ငန်းအကျိုးအမြတ်အပေါ် မူတည်၍ (၅)နှစ် တစ်ကြိမ် ပြန်လည် ညှိနှိုင်းရန် သဘောတူပါသည်။

၄။ မူလစာချုပ်၏ စာချုပ်သက်တမ်းတိုးခြင်း ခေါင်းစဉ်အောက်ရှိအပိုဒ် ၈(က)နှင့်(ခ) စာပိုဒ်များအား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးရမည်-

၈။ အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်းကုန်ဆုံးပြီးနောက် ဆက်လက်ငှားရမ်းလိုပါက စာချုပ်သက်တမ်းမကုန်ဆုံးမီ အနည်းဆုံး(၆)လ ကြိုတင်၍ ငှားရမ်းလိုသည့်ကာလကို ဖော်ပြပြီး အငှားချထားသူထံသို့ စာဖြင့်တင်ပြရမည် ဖြစ်သည်။ ထပ်မံငှားရမ်းမည့်ကာလအတွက်



ငှားရမ်းခကို နှစ်ဦးနှစ်ဖက် ညှိနှိုင်းသတ်မှတ်၍ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၏ အတည်ပြုချက် ရယူပြီး စာချုပ်သက်တမ်းကို တိုးမြှင့် နိုင်ပါသည်။

၅။ ဤပြင်ဆင်ချက်သဘောတူစာချုပ်သည် မူလစာချုပ်၏ အစိတ်အပိုင်းတစ်ရပ်အဖြစ် မှတ်ယူရမည်။

၆။ အထက်ဖော်ပြပါပြင်ဆင်ဖြည့်စွက်သော စည်းကမ်းချက်များမှအပ မူလစာချုပ်၏ ကျန်စည်းကမ်းချက်များသည် ပြောင်းလဲမှုမရှိဘဲ ဆက်လက်အကျိုးသက်ရောက်မှု ရှိရမည်။

၇။ ဤပြင်ဆင်ချက်သဘောတူစာချုပ်သည် စာချုပ်ဝင်များနှစ်ဖက် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်မည် ဖြစ်သည်။

ဤစာချုပ်ချုပ်ဆိုသူများကအထက်တွင် ရေးသားဖော်ပြထားသည့် စည်းကမ်းချက်များကို သဘောတူသဖြင့် ၂၀၁၅ ခုနှစ်၊ ဩဂုတ်လ (၂၀ ) ရက်၌ မိမိတို့၏ တံဆိပ်များကို ခပ်နှိပ်ကြလျှက် လက်မှတ်ရေးထိုး အတည်ပြုကြပါသည်။

| **အငှားချထားသူ** | | | **အငှားချထားခြင်းခံရသူ** | |
|---|---|---|---|---|
| ထိုးမြဲလက်မှတ် | - | | ထိုးမြဲလက်မှတ် | - |
| အမည် | - | ဦးကျော်ရွှေ | အမည် | - ဒေါ်အေးစန္ဒာလွင် |
| ရာထူး | - | ညွှန်ကြားရေးမှူးချုပ် | ရာထူး | - ဒါရိုက်တာ |
| ဌာန | - | စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန | | Diamond Star Co., Ltd |

| **အသိသက်သေ** | | | **အသိသက်သေ** | |
|---|---|---|---|---|
| ထိုးမြဲလက်မှတ် | - | | ထိုးမြဲလက်မှတ် | - |
| အမည် | - | ဦးအောင်မော် | အမည် | - ဒေါ်ခရေမင်းဆောင် |
| ရာထူး | - | ညွှန်ကြားရေးမှူး | ရာထူး | - မန်နေဂျာ |
| ဌာန | - | စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန | | နိုင်ငံသားစိစစ်ရေးကဒ်-၇/ရကန(နိုင်)၁၀၀၁၀၉၆ |

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
၅၀၀၀ကျပ် K 5000

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
၂၀၀၀ကျပ် K 2000

နောက်ဆက်တွဲ(ခ)

အမရပူရ ဝါဂက်ဝန်း အတွင်းရှိ ပိုးချည်လုပ်ငန်းဌာနပိုင် အဆောက်အဦးများစာရင်း

| အညွှန်း | အသုံးပြုပုံ | | |
|---|---|---|---|
| ၁ | တိုင်းမန်နေဂျာနေအိမ် | (45' ×25' ×15') | အုတ်နံကပ်၊ သွပ်မိုး |
| ၂ | ဝန်ထမ်း(၂)ခန်းတွဲ အိမ် | (40'×30'×15') | " |
| ၃ | ဝန်ထမ်းအိမ် | (25'×18'×15') | ယာယီ သစ်/ဝါး |
| ၄ | ဝန်ထမ်း(၂)ခန်းတွဲ အိမ် | (40'×30'×15') | အုတ်နံကပ်၊ သွပ်မိုး |
| ၅ | ဝန်ထမ်း(၂)ခန်းတွဲ အိမ် | (40'×20'×12') | သစ်/သွပ် |
| ၆ | ပိုးဂိုဒေါင်ကြီး | (80'×40'×20') | အုတ်နံကပ်၊ သွပ်မိုး |
| ၇ | ဆီဂိုဒေါင် | (30'×30'×15') | သွပ်မိုး၊သွပ်ကာ၊ [illegible] |
| ၈ | ဆီဂိုဒေါင် | (15'×15'×15') | သွပ်မိုး၊သွပ်ကာ |
| ၉ | ဆီဂိုဒေါင် | (15'×15'×15') | သွပ်မိုး၊သွပ်ကာ |
| ၁၀ | ဝန်ထမ်းနေအိမ် | (20'×15'×10') | ထရံကာ၊ ဝါးကပ်မိုး |
| ၁၁ | ဝန်ထမ်း(၂)ခန်းတွဲ အိမ် | (40'×20'×12') | သစ်/ဝါး |
| ၁၂ | ဆီဂိုဒေါင် | (60'×30'×15') | အုတ်နံကပ်၊ သွပ်မိုး |
| ၁၃ | မြို့နယ်ရုံး | (100'×30'×15') | အုတ်နံကပ်၊ သွပ်မိုး |
| ၁၄ | ဝန်ထမ်းတန်းလျား | (100'×30'×15') | ထရံကာ၊ သွပ်မိုး၊ [illegible] |
| | ရေလှောင်ကန်များ | | အုတ် |
| ၁၅ | ဝါကော် | (100'×30'×15') | သွပ်မိုး၊သွပ်ကာ [illegible] |
| | စက်ခန်း | (56'×27'×9') | သွပ်မိုး၊သွပ်ကာ [illegible] |
| ၁၆ | ဝါရေလှော်ကွင်းကရစ်အုတ်ခုံ | (100'×100'×2') | |

မိတ္တူမှန်

**စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန**

**အမရပူရမြို့နယ်၊နတ်ရေကန်ကျေးရွာရှိမြေ(၇.၇၀)ဧကအား**

**ငှားရမ်းခြင်းသဘောတူစာချုပ်**

**စာချုပ်အမှတ် - ၄ / ၂၀၁၂**

**စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန**

**လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**

**နှင့်**

**DIAMOND STAR CO., LTD**

စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်ရုံး

၂၀၁၃ ခုနှစ် ဇန်နဝါရီလ ၁၈ ရက်

DIAMOND STAR CO., LTD

ကနဦး ချုပ်ဆိုထားသော စာချုပ်များ [illegible] ယခု စာချုပ်တွင်သာ
[illegible] ဆောင်ရွက်ပါသည်။

# ငှားရမ်းရေးသဘောတူစာချုပ်

**စာချုပ်အမှတ် - ၄ /၂၀၁၂** **ရက်စွဲ- ၁၈. ၁.၂၀၁၃**

၁။ ဤငှားရမ်းခြင်းသဘောတူစာချုပ်ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၊ နေပြည်တော်၌ ၂၀၁၃ ခုနှစ် ဇန်နဝါရီလ( ၁၈ ) ရက်၌ ဦးကျော်ရွှေ၊ ညွှန်ကြားရေးမှူးချုပ် ကိုယ်စားပြုသော နေပြည်တော်၊ ရုံးအမှတ်(၅၀)တွင် တည်ရှိသည့် လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန(ရုံးချုပ်)၊ (နောင်တွင်**"အငှားချထားသူ"** ဟုခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်၌ ၄င်းအားဆက်ခံသူများနှင့်ဥပဒေအရလွှဲအပ်ခြင်းခံရသူများပါဝင်သည်) ကတစ်ဖက်နှင့် ဦးထွန်းရင်၊ ဒါရိုက်တာ (နိုင်ငံသားစိစစ်ရေးကဒ်အမှတ်- ၉/မနမ(နိုင်) ၀၃၀၇၅၈) ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၊ ရန်ကုန်တိုင်းဒေသကြီးရှိ အမှတ်(၂၅၆/၂၆၀)၊ ဆူးလေဘုရားလမ်း၊ ရန်ကုန်မြို့တွင် တည်ရှိသော Diamond Star Co., Ltd (နောင်တွင် **"အငှားချထားခြင်းခံရသူ"**ဟုခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်၌ ၄င်းအားဆက်ခံသူများနှင့် ဥပဒေအရလွှဲအပ်ခံရသူများ၊ တရားဝင်ကိုယ်စားလှယ်များ ပါဝင်သည်)က အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များကို သတ်မှတ်၍ ဤသဘောတူစာချုပ်ကို ချုပ်ဆိုခြင်းဖြစ်ပါသည်။

**အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း**

၂။ "အငှားချထားသူ"သည် အငှားချထားသော မြေနေရာအဆောက်အဦ၊ စက်ပစ္စည်းများအား ပိုင်ဆိုင်သူဖြစ်ပြီး "အငှားချထားခြင်းခံရသူ" သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တရားဥပဒေများနှင့်အညီ ဖွဲ့စည်းထား၍ တရားဝင် ရပ်တည်ခွင့်ရှိသူ ဖြစ်သည့်အပြင် ဤသဘောတူစာချုပ်ကို ချုပ်ဆိုနိုင်ရန်အလို့ငှာ လုပ်ပိုင်ခွင့်အာဏာ၊ ခိုင်မာသောဘဏ္ဍာရေး ရပ်တည်မှု နှင့် အခွင့်အာဏာရှိသူများ ဖြစ်ကြကြောင်း အသီးသီး ကိုယ်စားပြု အာမခံချက်ပေးကြပါသည်။

**အငှားချထားသည့်ပစ္စည်း**

၃။ (က) မြေ ။ စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန၊မန္တလေးတိုင်းဒေသကြီး၊ အမရပူရမြို့နယ်၊ နတ်ရေကန်ကျေးရွာရှိ နောက်ဆက်တွဲ (က)ပါ မြေဧရိယာ(၇.၇၀) ဧကအား ငှားရမ်းရန် သဘောတူညီပါသည်။

(ခ) အဆောက်အဦ ။ စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန၊ မန္တလေးတိုင်းဒေသကြီး၊ အမရပူရမြို့နယ်၊နတ်ရေကန်ကျေးရွာရှိ မြေဧရိယာ(၇.၇၀) ဧကနှင့် ၄င်းမြေပေါ်ရှိ နောက်ဆက်တွဲ(ခ) ပါဂိုဒေါင်နှင့် အဆောက်အဦများအား ငှားရမ်းရန် သဘောတူညီပါသည်။

စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်ရုံး လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန

DIAMOND STAR CO., LTD

**အငှားချထားသူ၏ တာဝန်**

၄။ "အငှားချထားခြင်းခံရသူ" သည် ငှားရမ်းမှုသက်တမ်းနှင့် တိုးမြှင့်ငှားရမ်းသက်တမ်း အတွင်း အေးချမ်းသာယာစွာ လက်ဝယ်ထားရှိနိုင်စေရန် အောက်ပါအတိုင်းဆောင်ရွက်ရမည်-

(က) အငှားချထားသူအနေဖြင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်သွားရမည်၊

(ခ) ငှားရမ်းမြေကိစ္စနှင့်ပတ်သက်၍ အခက်အခဲကြုံတွေ့လာပါက ဌာနမှ ဝင်ရောက်ကူညီ ဖြေရှင်းပေးရန်၊

(ဂ) ငှားရမ်းပြီးနောက်ပိုင်း ဖြေရှင်းရန် တစ်စုံတစ်ရာကိစ္စ ပေါ်ပေါက်လာပါက ဌာနမှ ဝင်ရောက်ကြီးကြပ်ပြီး ခွင့်ပြုချက်ဖြင့် လိုအပ်သလို ညှိနှိုင်းဆောင်ရွက်ပေးရန်၊

(ဃ) အမရပူရမြို့နယ်၊ နတ်ရေကန်ကျေးရွာရှိ အထက်အပိုဒ်(၃) ပါ မြေနှင့် အဆောက်အဦများကို အငှားချထားသူမှ အငှားချထားခြင်းခံရသူသို့ လွှဲပြောင်းပေးရမည်၊

(င) အငှားချထားခြင်းခံရသူမှငှားရမ်းခွင့်ပြုသည့်မြေအတွင်းလိုအပ်ချက်အရ လုပ်ငန်းဆိုင်ရာအဆောက်အဦများဆောက်လုပ်ခြင်းအား စိစစ်၍ လိုအပ်သလို ခွင့်ပြုပေးနိုင်သည်၊

**အငှားချထားခြင်းခံရသူ၏ တာဝန်**

၅။ (က) အငှားချထားသောဧရိယာအတွင်းရှိ အဆောက်အအုံများနှင့် ဆောက်လုပ်ထားသောအရာများကို ကောင်းမွန်စွာ ပြုပြင်ပေးရန်နှင့် ကောင်းမွန်သည့်အခြေအနေတွင်ရှိနေအောင်ထားရှိပေးရန်အပြင် ငှားရမ်းထားသည့်ကာလ(သို့မဟုတ်) တိုးချဲ့ထားသည့်ကာလ ရှိခဲ့လျှင် ကုန်ဆုံးချိန်၌ အဆိုပါကောင်းမွန်စွာ ပြုပြင်ထားပြီး ကောင်းမွန်သော အခြေအနေရှိနေသည့် အဆောက်အအုံများနှင့် ဆောက်လုပ်ထားသည့် အရာများအား အငှားချထားသူသို့ လွှဲပြောင်းပေးရန်။

(ခ) အငှားချထားသော ဧရိယာ(သို့မဟုတ်) ယင်းတို့၏ အစိတ်အပိုင်းတစ်ခုခုပေါ်တွင် ဆောင်ရွက်သော လုပ်ရှားဆောင်ရွက်မှုများနှင့် စီစဉ်လုပ်ဆောင်သော လုပ်ငန်းများ အားလုံးသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၏ တည်ဆဲဥပဒေနှင့်အညီ ကိုက်ညီမှု ရှိစေရေးအတွက် သေချာစွာ လိုက်နာဆောင်ရွက်ရန်။

(ဂ) အငှားချထားခြင်းခံရသူသည် အငှားချထားသည့် မြေနှင့်အဆောက်အဦများအားလုံးကို မူလအဆိုပြုလွှာတွင် ဖော်ပြထားသည့် လုပ်ငန်းအတွက်ကိုသာ အသုံးပြုရန်နှင့် မီးလောင် ပေါက်ကွဲလွယ်သောပစ္စည်းများ၊သဘာဝပတ်ဝန်းကျင်အား ထိခိုက်စေသော ကုန်ပစ္စည်းများ သိုလှောင်ခြင်းမပြုရန်။ (ပေါက်ကွဲလွယ်သောပစ္စည်းဆိုသည်မှာ ပစ္စည်းအမျိုးအမည် တစ်မျိုးတည်းထားခြင်းဖြင့် မီးလောင်ပေါက်ကွဲမှု မဖြစ်နိုင်သော်လည်း ပစ္စည်းများ ရောနှော သိုလှောင်ခြင်းဖြင့် ၎င်းတို့အချင်းချင်း ဓာတ်ပြုပြီး မီးလောင်ပေါက်ကွဲနိုင်သည့် ပစ္စည်းများကို ဆိုလိုပါသည်။)

(ဃ) အငှားချထားသည့် မြေဧရိယာတွင် ဥပဒေနှင့်မလွတ်ကင်းသောလုပ်ငန်းများ ဆောင်ရွက်ခြင်းနှင့် တည်ဆဲတရားဥပဒေနှင့် ဆန့်ကျင်သောကုန်ပစ္စည်းများ ထားရှိခြင်း၊ ခေတ္တထားသိုခြင်း လုံးဝမပြုလုပ်ရန်။

(င) အငှားချထားခြင်းခံရသူသည် မိမိငှားရမ်းထားသည့် မြေဧရိယာပေါ်ရှိ စက်ရုံ၊ အဆောက်အဦများ အားလုံးဖြစ်စေ၊ တစ်စိတ်တစ်ပိုင်းဖြစ်စေ ထပ်မံ၍ လွှဲပြောင်းခြင်း၊ ငှားရမ်းခြင်း၊ ရောင်းချခြင်း မပြုလုပ်ရန် အာမခံရမည်။

(စ) အငှားချထားသောဧရိယာ (သို့မဟုတ်) ယင်းတို့၏အစိတ်အပိုင်းတစ်ခုခုအပေါ် ဆိုခဲ့သည့် သက်တမ်းကာလအတောအတွင်း မြေခွန်မှလွဲ၍ ယခုလောလောဆယ် (သို့မဟုတ်) နောက်ပိုင်း စည်းကြပ်မည့်အခွန်အခများ အားလုံးကို ပေးသွင်းရန်။

(ဆ) အငှားချထားသည့် မြေဧရိယာတွင် စက်ရုံ၊ အလုပ်ရုံ၊ စားသောက်ဆိုင် စသော စီးပွားရေးလုပ်ငန်းများအား လုပ်ကိုင်ခြင်းမပြုရန်။

(ဇ) ငှားရမ်းသည့်မြေပေါ်ရှိ အဆောက်အဦအတွက် မီးဘေးအန္တရာယ်ကာကွယ်ရေး စီမံချက် ရေးဆွဲထားရှိ၍ စနစ်တကျ ကြိုတင်ပြင်ဆင်ထားရှိပြီး သိုလှောင်ရုံများလိုက်နာဆောင်ရွက်ရမည့် စည်းကမ်းညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့်မီးအာမခံကို (၁)လ အတွင်း အပြီးထားရှိရန်။

(ဈ) ငှားရမ်းသည့်မြေနှင့် အဆောက်အဦများတွင် စာချုပ်ပါအတိုင်းလိုက်နာ ဆောင်ရွက်မှု ရှိ/မရှိ ပိုင်ရှင်ဖက်မှ (၃)လတစ်ကြိမ် လုပ်ထုံးလုပ်နည်းနှင့်အညီ ဝင်ရောက်စစ်ဆေးမှု၌ ပူးပေါင်းပါဝင် ဆောင်ရွက်ပေးရန်။

(ည) စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာနနှင့် စိုက်ပျိုးရေးဦးစီးဌာနတို့အတွက် လျာထားမြေနေရာအား အုတ်တံတိုင်းစည်းရိုးဖြင့် ကာရံပေးရန်။

(ဋ) ငှားရမ်းမြေဧရိယာအတွင်းရှိ ဌာနပိုင်ဟောင်းနွမ်းနေသောအဆောက်အဦများအား ဖျက်သိမ်း၍ အစားထိုးဆောက်လုပ်လိုပါ က ပြန်လည် ဆောက်လုပ်ပေးရန် ဖြစ်ပြီး ဆောက်လုပ်သည့် အဆောက်အဦပုံစံနှင့် ဆောက်လုပ်သည့်နေရာအား ဝန်ကြီးဌာနမှ အတည်ပြုခွင့်ပြုချက် ရယူရန်နှင့် အဆောက်အဦဆောက်လုပ်ပြီး နောက်တစ်လအတွင်းဌာနပိုင်စာရင်းသွင်းနိုင်ရေး လွှဲပြောင်းပေးရန်။

(ဌ) ငှားရမ်းဧရိယာအတွင်း အသစ်ဆောက်လုပ်မည့် အဆောက်အဦ Layout Plan တင်ပြပြီး ဝန်ကြီးဌာနမှ ခွင့်ပြုသော Layout Plan ဖြင့်သာဆောက်လုပ်ရန်နှင့် ၎င်းအဆောက်အဦများအားစာချုပ်ကာလပြီးဆုံးပါ က ဌာနသို့လွှဲပြောင်းပေးရန်။

**ငှားရမ်းသည့်ကာလ**

၆။ ငှားရမ်းမှု သက်တမ်း(၅) နှစ်ကို ယခင်ငှားရမ်းခြင်းသဘောတူစာချုပ်အမှတ် ၁/၂၀၁၂ ချုပ်ဆိုခဲ့သည့် ၃၀.၁.၂၀၁၂ မှ စတင်၍ သတ်မှတ်ရေတွက်ရမည်။

**ငှားရမ်းခ**

(က) ... ငှားရမ်းချထားသောမြေနှင့် ဆောက်လုပ်ထားသောအဆောက်အဦများအား တစ်နှစ်

လျှင်ကျပ်သိန်း (၂၀၀) နှုန်းဖြင့် ငှားရမ်းကြရန် သဘောတူကြပါသည်၊

(ခ) အငှားချထားခြင်းခံရသူသည် မြေနှင့်ဆောက်လုပ်ထားသော အဆောက်အဦများ၊ စက်ကိရိယာများငှားရမ်းခတစ်နှစ်စာကို စာချုပ်ချုပ်ဆိုပြီးတစ်ပတ်အတွင်းအငှားချထားသူထံသို့ အပြေအကျေ ပေးသွင်းရမည်။စေ့ရောက်သည့်နေ့ရက်တွင် ပေးချေခြင်းမရှိပါက ဒဏ်ကြေးအဖြစ် တစ်လလျှင် တစ်နှစ်စာ ငှားရမ်းခ၏ (၂) % နှုန်းဖြင့် ထပ်ဆောင်းပေးချေရမည်၊

(ဂ) ကျန်ရှိသည့် နှစ်များအတွက် အငှားချထားသော မြေနှင့် ဆောက်လုပ်ထားသော အဆောက်အဦများ စက်ကိရိယာများ၏ ငှားရမ်းခအား တစ်နှစ်တစ်ကြိမ် ငှားရမ်းကာလ မစေ့ရောက်မီ တစ်ပတ်အလိုတွင် ကြိုတင်၍ အပြေအကျေ ပေးချေရမည်။ စေ့ရောက်သည့်နေ့ရက်တွင် ပေးချေခြင်းမရှိပါက ဒဏ်ကြေးအဖြစ် တစ်လလျှင် တစ်နှစ်စာ ငှားရမ်းခ၏ (၂) % နှုန်း ဖြင့် ထပ်ဆောင်းပေးချေရမည်၊

(ဃ) ငှားရမ်းခအား(၅)နှစ်တစ်ကြိမ် လုပ်ငန်းဆောင်ရွက်မှု အကျိုးအမြတ်အပေါ် သုံးသပ်၍ ပြန်လည်သတ်မှတ်ပြင်ဆင်စာချုပ်ချုပ်ဆိုရန် သဘောတူပါသည်။ ထိုသို့သတ်မှတ်ရာတွင် နောက်ဆုံးသတ်မှတ်နှုန်းထက် (၁၀)% ပိုခြင်း၊ လျော့ခြင်း မဖြစ်စေရပါ။

**စာချုပ်သက်တမ်းတိုးခြင်း**

၈။ (က) အငှားချထားခြင်းခံရသူသည်စာချုပ်သက်တမ်းကုန်ဆုံးပြီးနောက်မြေနှင့်ယင်းမြေပေါ်ရှိ အဆောက်အဦများကို ဆက်လက်ငှားရမ်းလိုပါက စာချုပ်သက်တမ်း မကုန်ဆုံးမီ အနည်းဆုံး(၆) လ ကြိုတင်၍ ငှားရမ်းလိုသည့်ကာလကို ဖော်ပြပြီး အငှားချထားသူသို့ စာဖြင့် အကြောင်းကြားတင်ပြရမည်။

(ခ) အငှားချထားခြင်းခံရသူက (၅)နှစ်ငှားရမ်းသည့်ကာလ ပြည့်မြောက်ပြီးနောက် ဆက်လက် ငှားရမ်းလိုပါက ( ၆ )လ ကာလကြိုတင်၍ ထပ်မံငှားရမ်းမည့် ကာလအတွက်ငှားရမ်းခနှုန်းထားကို နှစ်ဦးနှစ်ဖက်ညှိနှိုင်းသတ်မှတ်၍အငှားချထားသူက သဘောတူလျှင် ဝန်ကြီးဌာန၏ အတည်ပြုချက်ရယူပြီး စာချုပ်သက်တမ်းကို ညှိနှိုင်း တိုးမြှင့်နိုင်သည်။

**စာချုပ်အကျိုးသက်ရောက်မည့်နေ့**

၉။ ဤသဘောတူစာချုပ်သည်အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့ တရားဝင်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်စေရမည်။

**စာချုပ်ရုပ်သိမ်းခြင်း**

၁၀။ (က) ဤစာချုပ်ကို ချုပ်ဆိုသူများသည် အောက်ဖော်ပြပါ အကြောင်းခြင်းရာ တစ်ရပ်ရပ် ဖြစ်ပေါ်လာလျှင် ဤသဘောတူစာချုပ်ကို ရုပ်စဲခွင့်ရှိစေရမည်၊

(၁) ... ညီညာဉ်စာချုပ်ဝင် တစ်ဖက်ဖက်မှ စာချုပ်ပါအဓိကတာဝန်များ ဆောင်ရွက်ရန် ပျက်ကွက်ခြင်း၊

(၂) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းမပြုနိုင်သော မလွန်ဆန်နိုင်သော ဖြစ်ရပ်သည် တစ်ဆက်တည်း (၆) လကာလအထိကြာမြင့်ခြင်း၊

(၃) နှစ်ဖက်သဘောတူစာချုပ်ရပ်စဲခြင်း၊

(၄) စာချုပ်သက်တမ်းကုန်ဆုံးခြင်း၊

(ခ) ဤစာချုပ်ချုပ်ဆိုသူများ၏ လုပ်ငန်းရပ်စဲလိုကြောင်းစာဖြင့် ရေးသားတင်ပြချက်သည် ဝန်ကြီးဌာန၏ ခွင့်ပြုချက်ရရှိပြီးနောက်မှသာ အကျိုးသက်ရောက်မှု ရှိစေရမည်။

**အငြင်းပွားမှုဖြေရှင်းခြင်း**

၁၁။ ဤငှားရမ်းခြင်းသဘောတူစာချုပ်နှင့် စပ်လျဉ်း၍ အငြင်းပွားမှုတစ်ခုခု ပေါ်ပေါက်လာပါက အဆိုပါအငြင်းပွားမှုကို နှစ်ဖက်အပြန်အလှန် ဆွေးနွေးညှိနှိုင်းခြင်းဖြင့် နှစ်ဖက်စလုံးအကြား မိတ်ဆွေသဘောအရ ကြေအေးမှုရအောင် ဆောင်ရွက်ကြရမည်။ အငြင်းပွားမှုများကို အထက်ပါအတိုင်း ချစ်ကြည်ရင်းနှီးစွာ ဖြေရှင်းဆောင်ရွက်မှုမပြုနိုင်ပါက ဥပဒေနှင့်အညီ သက်ဆိုင်ရာ စီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ ဆုံးဖြတ်ချက်ကို ခံယူရမည်။

**မလွန်ဆန်နိုင်သောဖြစ်ရပ်များ**

၁၂။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျှောက်ကြုံတွေ့သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေးစသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့်ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း စသည်တို့နှင့် စာချုပ်ဝင်တစ် ဖက်ဖက်က လိုအပ်သော သတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်မကျော်လွှားနိုင်သည့် အလားတူ ဖြစ်ရပ်များဖြစ်ပြီး၊ ယင်းမလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် အငှားချထားခြင်းခံရသူသည် အငှားချထားသူသို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခွင့် မရှိစေရ။

ထိုသို့မလွန်ဆန်နိုင်သော ဖြစ်ရပ်ပေါ်ပေါက်ပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ (၁၄) ရက် အတွင်း အငှားချထားခြင်းခံရသူသည် အငှားချထားသူသို့ ချက်ချင်းစာ ဖြင့်ရေးသား အကြောင်းကြားရမည်။ အငှားချထားသူက လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်ပြောက်ပြီး မြေအသုံးပြုခွင့် နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလအပိုင်းအခြားအတွက်ငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်။

**မီးဘေးကာကွယ်ခြင်း**

၁၃။ (က) ငှားရမ်းမြေနှင့် အဆောက်အဦများအတွက် မီးဘေးအန္တရာယ်ကာကွယ်ရေး စီမံချက်များချမှတ်ထား၍ စနစ်တကျကြိုတင်ပြင်ဆင်ထားရှိပြီး အငှားချထားခြင်းခံရသူများ လိုက်နာဆောင်ရွက်ရမည့် စည်းကမ်းညွှန်ကြားချက်များနှင့်အညီ

လိုက်နာဆောင်ရွက်ရန်နှင့် မီးအာမခံကို မြန်မာ့အာမခံလုပ်ငန်းသို့ (၁) လအတွင်း အပြီးထားရှိရမည်။

(ခ) မီးလောင်ကျွမ်းမှုဖြစ်ပွားလျှင် မြန်မာ့အာမခံလုပ်ငန်းမှ မြန်မာ့အာမခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ ပြန်လည်ပေးလျော်စေရေး ဆောင်ရွက်ပေးရမည်။ မီးလောင်ကျွမ်းမှုအတွက် အငှားချထားသူတွင် တာဝန်မရှိစေရ။

စာချုပ်အား ပြန်လည်ညှိနှိုင်းခြင်း

၁၄။ သဘောတူစာချုပ်ကို ပြင်ဆင်ခြင်းများ၊ အာမခံခြင်းများနှင့် သဘောတူစာချုပ်တွင် မမျှော်မှန်းနိုင်သော ဝန်းကျင်အခြေအနေများကြောင့် စည်းကမ်းချက် (သို့မဟုတ်) အရေးကြီးသည့် အချက်တစ်ခုခု ပေါ်ပေါက်လာသည့် ဖြစ်ရပ်တွင် ပါဝင်ချုပ်ဆိုသူများသည် လိုအပ်သလို ဆွေးနွေးညှိနှိုင်းမှု ပြုလုပ်ရမည်။ သို့သော် စာချုပ်၏မူလရည်ရွယ်ချက်ကို မပျက်ပြားစေရ။ ဤကဲ့သို့ စာချုပ်ပြင်ဆင်ဖြည့်စွက်ခြင်းသည် လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၏ အတည်ပြုချက်ရရှိပြီးမှသာ အကျိုးသက်ရောက်စေရမည်။

ပြင်ဆင်ခြင်း

၁၅။ ဤစာချုပ်ပါ စည်းကမ်းချက်များအား ဖြည့်စွက်ခြင်း၊ ပြင်ဆင်ခြင်းကို စာချုပ်ဝင်နှစ်ဦးနှစ်ဘက်မှ စာဖြင့်ရေးသား၍ သဘောတူညီချက်ရရှိပြီး ခွင့်ပြုနိုင်သည့် အထက်အဖွဲ့အစည်း အဆင့်ဆင့်သို့ တင်ပြ အတည်ပြုချက်ဖြင့် ပြင်ဆင်ခွင့်ရှိသည်။

မြေကွက်၏မြေပုံ

၁၆။ ဤစာချုပ်အရအငှားချထားမည့် အမရပူရမြို့နယ်၊နတ်ရေကန်ကျေးရွာရှိ မြေပုံကို နောက်ဆက်တွဲ (က) အဖြစ် ပူးတွဲပေးထားပါသည်။

ဓာတ်သတ္တုအရင်းအမြစ်များ

၁၇။ အငှားချထားသည့်မြေ (သို့မဟုတ်) မြေအောက်မှ ဓာတ်သတ္တုတွင်းများနှင့် တွင်းထွက်သယံဇာတထွက်ကုန်များ၊ နစ်မြုပ်နေသောရတနာများ၊ ကျောက်မီးသွေး၊ ရေနံ၊ ရေနံစိမ်း၊ ကျောက်ကျင်းများနှင့် အခြားတန်ဖိုးရှိပစ္စည်းများ တွေ့ရှိပါက အငှားချထားသူက ပိုင်ဆိုင်သော ပစ္စည်းများ ဖြစ်စေရမည့်အပြင် အငှားချထားသူသည် မည်သည့်အချိန်၌မဆို ဖော်ပြခဲ့သည်များအား လွတ်လပ်စွာ တူးဖော်ခွင့်ရှိစေရမည်။

ပြန်လည်လွှဲပြောင်းပေးခြင်း

၁၈။ ဤသဘောတူစာချုပ်ပါ ငှားရမ်းခြင်းကာလ ကုန်ဆုံးသည့်အခါ ကုန်ဆုံးသည့်ရက်မှ (၁) လ ကာလအတွင်း အငှားချထားခြင်းခံရသူသည် ဆက်လက်အသုံးပြုနိုင်သည့် အနေအထားဖြင့် အငှားချထားသူသို့ အဖိုးစားနားမဲ့ ပြန်လည်လွှဲပြောင်းပေးရမည်။

DIAMOND STAR CO., LTD

